ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကက-၆(က)/မ-စက်သုံးဆီ/၂၀၁၃(၅၃၇၀)

ရက်စွဲ ၊ ၂၀၁၃ ခုနှစ် မေ လ ၈ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြသည့်

အမှာစာ

အကြောင်းအရာ။ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော သီလဝါ ဆိပ်ကမ်းဒေသရှိ မြေနေရာတွင် B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင်ဖြန့်ဖြူးသည့် ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်မည့် ကုမ္ပဏီ(၅)ခု (Padauk Shwe War ၊ Thuriya Energy ၊ Shwe Taung Energy ၊ IGE Services ၊ Green Asia Services )တို့၏ အဆိုပြုချက်များ တင်ပြခြင်း ကိစ္စ

၁။ ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၌ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော သီလဝါဆိပ်ကမ်းဒေသရှိ မြေနေရာတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အောက်ပါ ကုမ္ပဏီ(၅)ခုတို့သည် ပို့ဆောင်ရေးဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခဲ့ပါသည်။

| စဉ် | ကုမ္ပဏီအမည် | ဆောင်ရွက်မည့် လုပ်ငန်း | တည်နေရာ |
|---|---|---|---|
| ၁။ | Padauk Shwe War Port and Petroleum Co., Ltd. | B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်၍ စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးခြင်း လုပ်ငန်း | မြေကွက်အမှတ် ၃၃ ရှိ မြေ (၃၇.၀၆) ဧက |
| ၂။ | Thuriya Energy Depot Management Co., Ltd. | B.O.T စနစ်ဖြင့် စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးခြင်း လုပ်ငန်း | မြေကွက်အမှတ် ၁၇ ၊ ၁၈(စီ) ရှိ မြေ (၂၄.၇၁)ဧက |
| ၃။ | Shwe Taung Energy Services Co., Ltd. | B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်၍ စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးခြင်း လုပ်ငန်း | မြေကွက်အမှတ် ၁ နှင့် ၂ (စီ) ရှိ မြေ (၂၄.၇၁)ဧက |

ကန့်သတ်

BOT Oil(5)MIC.doc

| စဥ် | ကုမ္ပဏီအမည် | ဆောင်ရွက်မည့် လုပ်ငန်း | တည်နေရာ |
|---|---|---|---|
| ၄။ | International Group of Entrepreneur Services Co., Ltd. | B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်၍ စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးခြင်း လုပ်ငန်း | မြေကွက်အမှတ် ၃၁ နှင့် ၃၂ (ဘီ) ရှိ မြေ(၂၄.၇၁) ဧက |
| ၅။ | Green Asia Services Co., Ltd. | B.O.T စနစ်ဖြင့် စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်၍ စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးခြင်း လုပ်ငန်း | မြေကွက် အမှတ် ၁၇၊ ၁၈ (အေ)ရှိ မြေ (၂၄.၇၁)ဧက |

၂။ ယခု တင်ပြသည့် အဆိုပြုလုပ်ငန်းများ နှင့်စပ်လျဥ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြ အပ်ပါသည်-

(က) စက်သုံးဆီဝန်ဆောင်မှုလုပ်ငန်းမှာ ပြည်ပမှ ကုန်ချော(စက်သုံးဆီ)များအား တင်သွင်းပြီး ပြည်တွင်း၌ သိုလှောင်ကာ ဖြန့်ဖြူးရောင်းချခြင်းဖြစ်သဖြင့် ဥပဒေပုဒ်မ ၁၃(ဈ)နှင့် အကျုံးမဝင်ပါ။

(ခ) မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၁၂ အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်ကို လည်းကောင်း၊ ပုဒ်မ ၁၃(ဇ)အရ တည်ဆောက်ရေးကာလအတွင်း ပြည်ပမှ တင်သွင်းမည့် စက်ပစ္စည်းများအတွက် အခွန်အကောက် ကင်းလွတ်ခွင့် ပြုနိုင်ပါသည်။

၃။ သို့ဖြစ်ပါ၍ ပို့ဆောင်ရေးဝန်ကြီးဌာန၊ မြန်မာ့ဆိပ်ကမ်းအာဏာပိုင်မှ ပိုင်ဆိုင်သော ရန်ကုန်တိုင်းဒေသကြီး၊ သန်လျင်-ကျောက်တန်းနယ်မြေ၊ သီလဝါ ဆိပ်ကမ်း ဒေသရှိ မြေနေရာတွင် B.O.T စနစ်ဖြင့် မြေငှားရမ်း၍ စက်သုံးဆီ တင်/ချ ဆိပ်ခံတံတား တည်ဆောက်ပြီး စက်သုံးဆီ သိုလှောင် ဖြန့်ဖြူးသည့် ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက် ခွင့်ပြုပါရန် ပို့ဆောင်ရေး ဝန်ကြီးဌာနမှတစ်ဆင့် အဆိုပြုချက်များ တင်ပြခြင်းအပေါ် စီးပွားရေးဆိုင်ရာ အသေးစိတ်အချက်အလက်များကို ပူးတွဲ တင်ပြလျှက် လမ်းညွှန်မှု ခံယူအပ်ပါသည်။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ညွှန်ကြားရေးမှူးချုပ်)

မိတ္တူ

ရုံးလက်ခံ